




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(စ)/ခ-၀၁၁/၂၀၁၈(၁၄၈-၀ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **Brighter Energy Co., Ltd.(အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်) ၏ ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၏ ၃၁-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၀/ ၁၀/ ၄၃/ မစက (စီမံကိန်း)

၁။ Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်) မှ ကွင်းအမှတ်- ၆၀၇ ဂရန်ကွင်း၊ ကွင်းအမှတ်-၆၁၁ ဘုရားငုတ္တိုကွင်း၊ ကွင်းအမှတ်- ၆၁၂ ဝွေးပင်ကွင်း၊ သီတာမြိုင်ရပ်ကွက်၊ ကျောက်တန်းမြို့ နယ်၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သဘော်ဖျက်စက်ရုံ(သီလဝါ) ရှိမြေ ၇၆၉.၇၉ ဧကအနက်မှ မြေ ၁၆၈.၅ ဧကပေါ်တွင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Brighter Energy Co., Ltd. (အလင်းတန်း စွမ်းအင်ကုမ္ပဏီ လီမိတက်) အား ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၇၉/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်)၏ သက်တမ်းကာလမှာ နှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်) ဖြစ်ပါသည်။

(ခ) မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်)တို့အကြား ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ (သီလဝါ) ရှိမြေ ၇၆၉.၇၉ ဧကအနက်မှ မြေ ၁၆၈.၅ ဧက

ပေါ်တွင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)အရ စာချုပ်စတင် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကနဦး ၅၀ နှစ်နှင့် အဆိုပါ ကနဦး နှစ် ၅၀ သက်တမ်းကုန်ဆုံးပြီးနောက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်တစ်ဆက်တည်း ၁၀ နှစ်နှင့် နောက်ထပ် ၁၀ နှစ် သက်တမ်းတိုးမြှင့် ခွင့်ပြုနိုင်သည့်စနစ်ဖြင့် အငှားချထားခွင့်ပြုမည်ဖြစ်ပါသည်။

(ဂ) အငှားချထားခြင်းခံရသူသည် မြေငှားရမ်းသူအား မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေ(၁)ဧကလျှင် အမေရိကန်ဒေါ်လာ ၁၀,၀၀၀ နှုန်းဖြင့် မြေ ၁၆၈.၅ ဧက အတွက် အမေရိကန် ဒေါ်လာ ၁,၆၈၅,၀၀၀ ကို စာချုပ်ချုပ်ဆိုပြီး ၁လအတွင်း အငှားချထားခြင်းခံရသူက ပေးသွင်းရမည်။ မြေငှားရမ်းခအဖြစ် ၁ ဧကလျှင် အမေရိကန်ဒေါ်လာ ၄,၈၀၀ နှုန်းဖြင့် စုစုပေါင်း မြေ ၁၆၈.၅ ဧက အတွက် တစ်နှစ်အတွက် ကျသင့်သော အမေရိကန် ဒေါ်လာ ၈၀၈,၈၀၀ ကို ပေးသွင်းရမည်။

(ဃ) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(င) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(စ) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဆ) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်း ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(ဇ) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင် ကုမ္ပဏီလီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်

ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဈ) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်)ကော်မရှင်ရုံး၏ဝက်(ဘ်)ဆိုဒ် သို့ တင်ပြရမည်။

(ည) Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့် ပတ်သက်၍ မြေအသုံးချမှု ပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွားရမည်။

၄။ Brighter Energy Co., Ltd. (အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရ ဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

29. 4. 18

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**Brighter Energy Co., Ltd.**

**(အလင်းတန်းစွမ်းအင်ကုမ္ပဏီလီမိတက်)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန